# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့် ကြော်ငြာစာအမှတ်၊ ၆၂/၂၀၀၃ (မနသ)
## ရန်ကုန်မြို့၊ ၁၃၆၅ ခုနှစ်၊ ကဆုန်လဆန်း ၆ ရက်
## (၂၀၀၃ ခုနှစ်၊ မေလ ၆ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.)သည် မရမ်းကုန်းမြို့နယ်၊ မြန်မာနိုင်ငံ စစ်မှုထမ်းဟောင်းအဖွဲ့ပိုင် မြေတိုင်းရပ်ကွက် အမှတ်(၁၂/က^၂)၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၀.၆၃၂)ဧက (၂၂၅၇.၆၂ စတုရန်းမီတာ) ပေါ်ရှိ အဆောက်အဦ များကို ငှါးရမ်း၍ ဆောင်ရွက်လျက်ရှိသော CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။ ယင်းလုပ်ငန်းမှာ မူလက ကော်မရှင် ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ၊ အထည်ချုပ် လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှတဆင့် စိစစ်ပြီး တင်ပြလာပါ၍ (၆-၂-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၃-၃-၂၀၀၃) နေ့တွင် ကျင်းပသော ကုန်သွယ်မှုဝါဒ ကောင်စီ၏ (၉/၂၀၀၃) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၄-၄-၂၀၀၃)နေ့တွင် ကျင်းပ ပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၃/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်း အစည်းအဝေးမှသဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.) အား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း ဆက်လက် ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၁၅/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင်ခွင့်ပြုသည့် (၆-၅-၂၀၀၃)နေ့မှ အစပြု၍ တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်

အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်မှုအခြေအနေ ကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ (တစ်)နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့်ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်း များနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.) သည်

ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.) သည် လုပ်ငန်း ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အမှန်တကယ်ချုပ်ခရငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်/ မြန်မာ့ ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမား များအတွက် လုပ်အားခပေးရန် အမှန်တကယ်ချုပ်ခရငွေ(နိုင်ငံခြားငွေ)များကို သတ်မှတ်ခွင့်ပြုထား သည့် MONEY CHANGER များတွင် FEC လဲလှယ်ပြီး မိမိတို့၏ အလုပ်သမားများအား လုပ်ခလစာများ ပေးရမည်။

၆။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.)သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန ၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၉။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ် စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှုအခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၁။ ဤကော်မရှင်မှ တရားဝင်ခွင့်ပြုသည့် ( ၆ -၅-၂၀၀၃) နေ့ကို ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.)၏ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့အဖြစ် သတ်မှတ် သည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း ဆက်လက် ဆောင်ရွက်ခြင်း မပြု နိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရာဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၄။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်းသတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(ဦးသောင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၈၄၄/၂၀၀၃ (၅ ၄ ၆ -က)

ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ မေလ ၆ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး။

၅။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်းထောက်လှမ်းရေးဌာန)။

၆။ ရန်ကုန်တိုင်း စစ်ဌာနချုပ်။

၇။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၈။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၉။ အလုပ်သမား ဝန်ကြီးဌာန။

၁၀။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၃။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၄။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ။ (အမှတ်(၁) စက်မှုဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၉။ ဥက္ကဋ္ဌ၊ မရမ်းကုန်းမြို့နယ်၊ စစ်မှုထမ်းဟောင်းများအဖွဲ့။

၃၀။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၃၁။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/မ-၁၃၆၂/ ၂၀၀၃ (၀ ၇ ၅ )။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဧပြီလ ၄ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (လုပ်ငန်းအဟောင်း) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေရွက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Shwe Ywet Hla Manufacturing Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ရရှိရေးအတွက် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၆-၂-၂၀၀၃) နေ့တွင်ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်း အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ (၁၃-၃-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၉/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့ သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် (၁၀.၇၅)သန်း { အမေရိကန်ဒေါ်လာ (၀.၁၂) သန်း အပါအဝင်} ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို ပြည်ပမှ ဝယ်ယူခဲ့ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မရမ်းကုန်းမြို့နယ် မြန်မာနိုင်ငံ စစ်မှုထမ်းဟောင်း အဖွဲ့ပိုင် မြေတိုင်းရပ်ကွက် အမှတ်(၀၇)၊ မြေကွက်အမှတ် (၁၂/က)၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၀.၆၃၂)ဧက (၂၂၅၇.၆၂ စတုရန်းမီတာ) ပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက် ခြင်းဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းအား CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန်ပယ်ထည် Reject(၁)ရာခိုင်နှုန်းအား ပြည်တွင်းတွင်ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) |
|---|---|---|
| ၁။ | Men's Polo Shirt | ၄၀၀၀၀ |
| ၂။ | Boys Polo Shirt | ၄၀၀၀၀ |
| ၃။ | Men's Jacket | ၂၅၀၀၀ |

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၄)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၇.၅၂)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၀၉ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁.၅၀ သန်း

၇။ လုပ်ငန်းကို ပြည်တွင်းမှ ဝန်ထမ်း (၃၆၅)ဦး ခန့်ထား ဆောင်ရွက်လျက်ရှိပါသည်။

၈။ ယင်းလုပ်ငန်းအတွက် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသို့ သဘောထား မှတ်ချက်တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ် ဓါတ်အားလုပ်ငန်းမှ ဓါတ်အားဆက်လက်ပေးနိုင်ပါကြောင်း ပြန်ကြားလာပါသည်။

၉။ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အဆိုပြုလုပ်ငန်းသည် လူနေရပ်ကွက်အတွင်း တည်ရှိနေသော်လည်း ပတ်ဝန်းကျင်တွင် အခြားစက်ရုံများ တည်ရှိခြင်း၊ ပတ်ဝန်းကျင်အား ညစ်ညမ်းမှု မရှိခြင်း၊ ဘေးပတ်ဝန်းကျင်မှ ကန့်ကွက်မှု တစ်စုံတစ်ရာ မရှိခြင်းတို့ကြောင့် လုပ်ငန်းအား ဆက်လက် ဆောင်ရွက်ခွင့်ပြုသင့်ကြောင်း ပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ CMP ချုပ်ခရငွေများနှင့် ပတ်သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၁။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) ရွှေရှက်လှ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အဝတ်အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရာတွင် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ ထောက်ခံတင်ပြသည့် အလားတူ CMP လုပ်ငန်းဟောင်းများ နည်းတူ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တရားဝင် ခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှ စ၍ ခံစား ခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(signature) ၉၂၆

ဥက္ကဋ္ဌ(ကိုယ်စား)
(ဗိုလ်ချုပ်ဟင်ထွတ်၊ ဒုတိယဥက္ကဋ္ဌ)
ဝန်ကြီး၊ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ။

R - ၁၁၉၂
၂၇/၁၁

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

# မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း

စာအမှတ်၊ ၄၅၇/ အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/ ၂၀၀၂။
ရက်စွဲ ၊ ၂၀၀၂ခုနှစ်၊ နိုဝင်ဘာလ(၂၆)ရက်။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၂၀၀၂နေ့စွဲပါ စာအမှတ် - ရက-၁/မ-သဘောထား/ ၂၀၀၂(၃၃၇၆(က)(၃)။

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာများနှင့် ပတ်သက်၍ ရည်ညွှန်းစာဖြင့် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ နောက်ဆက်တွဲ(က)ပါ(၂)ဦးမှာလုပ်ငန်းသစ်များမဟုတ်ဘဲ တည်ဆောက်ပြီးလည်ပတ်နေသော စက်ရုံများဖြစ်၍ လျှပ်စစ်ဓာတ်အားရရှိသုံးစွဲလျှက်ရှိပါသည်။ ဆက်လက်ဓာတ်အားပေးနိုင်ပါသည်။

၃။ နောက်ဆက်တွဲ(ခ)ပါ လုပ်ငန်းသစ်အားလည်းဓါတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြား အစီရင်ခံအပ်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(ဒေါက်တာစန်းဦး-အင်ဂျင်နီယာချုပ်)

27/11/02

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ**

**နိုင်ငံခြားဆက်ဆံရေးနှင့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖွဲ့**

စာအမှတ်၊ ၃၇၅၆/နဆရ/စည်ပင်-ယာ/အုံ(စစ်)

ရက်စွဲ ၊ ၂၀၀၂ ခုနှစ် နိုဝင်ဘာလ [illegible] ရက်

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ</u>

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၁၀-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ရက-၁/ CMP/ ၂၀၀၂ (၂၉၈၃-၄)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ **CMP** စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်လျက်ရှိသော <u>ကုမ္ပဏီ(၆)ခု</u>၏ လုပ်ငန်းတည်နေရာများနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်လူနေအိမ်များမှ ကန့်ကွက်ထားမှုရှိ မရှိနှင့် ပတ်ဝန်းကျင်အခြေအနေအား ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရေးအတွက် စက်ရုံတည်နေရာပြပုံစံနှင့်အတူ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ဤကော်မတီသို့ ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မေတ္တာရပ်ခံချက်အရ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ အဖွဲ့ဖြင့် အဆိုပါလုပ်ငန်းဆောင်ရွက်နေသည့် နေရာများသို့ ၂၅-၁၀-၂၀၀၂ ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးခဲ့ပါသည်။ ယင်းကုမ္ပဏီ(၆)ခု၏ လုပ်ငန်းဆောင်ရွက်မှုများနှင့် ပတ်ဝန်းကျင်အခြေအနေ စစ်ဆေးတွေ့ရှိချက်များအား စက်ရုံအလိုက် အောက်ပါအတိုင်း သုံးသပ်တင်ပြအပ်ပါသည်-

(က) **ဟန်ဂျင်းမုန်နျူဖက်ချားရင်းကုမ္ပဏီလီမိတက်**

(၁) **စစ်ဆေးတွေ့ရှိချက်။** ဟန်ဂျင်းမန်နျူဖက်ချားရင်းကုမ္ပဏီလီမိတက်သည် လှိုင်မြို့နယ်၊ ဓမ္မသုခကျောင်းလမ်း၊ အမှတ်(၁၈၃)ရှိ (၀.၁၃၉)ဧကအကျယ်ရှိသော [illegible] နှင့် ယင်းမြေကွက်အတွင်းရှိ (၆၂ပေ× ၇၄ပေ) နှစ်ထပ်ပျဉ်ထောင်အဆောက်အအုံ[illegible]ကို ပိုင်ရှင်ဖြစ်သူ ဦးအောင်သိန်းထံမှ ၇-၁၀-၂၀၀၁ ရက်နေ့တွင် ငှားရမ်း၍ အထည်ချုပ်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ စက်ရုံတည်နေရာပြပုံစံကို <u>နောက်ဆက်တွဲ(က)</u>

နှစ်ထပ်အုတ်နံကပ်အဆောက်အအုံတို့ရှိပြီး၊ အနောက်ဘက်နှင့် ယာဘက်တွင် လူနေအိမ်အဆောက်အအုံနှင့် ဝဲဘက်တွင် ဂျုံးဖြူပိုက်လိုင်းတို့ ရှိပါသည်။ စက်ရုံတည်နေရာပြပုံစံကို နောက်ဆက်တွဲ(ဃ)ဖြင့် ပူးတွဲ တင်ပြထားပါသည်။ ယင်းကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာမှာ ဒေါ်ကြည်ကြည်နုဖြစ်ပြီး၊ အလုပ်သမားအင်အား(၂၂၉)ဦး၊ စက်အင်အား(၁၄၇)လုံးဖြင့် အမျိုးသမီးဝတ်အထည်များကို တစ်လလျှင် ဒါဇင်(၆၀၀၀)ခန့် ထုတ်လုပ်လျက်ရှိကြောင်း သိရှိရပါသည်။ အဆိုပါ လုပ်ငန်းလုပ်ကိုင်သော နေရာမှာ လူနေရပ်ကွက်အတွင်းဖြစ်သော်လည်း ဘေးပတ်ဝန်းကျင်လူနေအိမ်များမှ တစ်စုံတစ်ရာ ကန့်ကွက်မှုမရှိကြောင်း သက်ဆိုင်ရာရပ်ကွက်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံထားပါသည်။

(၂) **သုံးသပ်ချက်။** ဗစ်တာအင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်၏ အထည်ချုပ်လုပ်ငန်းသည် လူနေရပ်ကွက်အတွင်း တည်ရှိသော်လည်း၊ ယခင်ကတည်းက ဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းဖြစ်ခြင်း၊ ဘေးပတ်ဝန်းကျင်မှ ကန့်ကွက်မှု တစ်စုံ တစ်ရာမရှိကြောင်း သက်ဆိုင်ရာ ရပ်ကွက်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံထားခြင်းတို့ကြောင့် ယင်းအထည်ချုပ်လုပ်ငန်းအား ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သုံးသပ်ရရှိပါသည်။

**(င) ရွှေရွက်လှထုတ်လုပ်မှုကုမ္ပဏီလီမိတက်**

(၁) **စစ်ဆေးတွေ့ရှိချက်။** ရွှေရွက်လှထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)ရပ်ကွက်၊ ရန်ကုန်–အင်းစိန်လမ်း၊ အမှတ်(၁၂/က–က)တွင် မရမ်းကုန်းမြို့နယ် စစ်မှုထမ်းဟောင်းအဖွဲ့ပိုင် (၁၀၀ပေ× ၁၃၀ပေ)ခန့်ရှိသော မြေနှင့် အဆောက်အအုံများကို ၃၀–၉–၂၀၀၂ ရက်နေ့တွင် ငှားရမ်း၍ အထည်ချုပ်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ အဆိုပါ မြေကွက်အတွင်း၌ (၈၀ပေ× ၈၀ပေ)ရှိ တစ်ထပ်အုတ်နံကပ်စက်ရုံ၊ (၅၀ပေ× ၂၀ပေ)ရှိ နှစ်ထပ်အုတ်နံကပ်ရုံးအဆောက်အအုံနှင့် (၄၀ပေ× ၂၅ပေ)ရှိ နှစ်ထပ်အုတ်နံကပ် အထည်ဖြတ်စက်ရုံတို့ တည်ရှိပါသည်။ စက်ရုံတည်နေရာပြပုံစံကို နောက်ဆက်တွဲ(င)ဖြင့် ပူးတွဲ တင်ပြထားပါသည်။ အဆိုပါ ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာမှာ ဦးစိုးလှိုင်ဖြစ်ပြီး၊ အလုပ်သမားအင်အား(၂၆၀)ဦး၊ စက်အလုံးရေ(၂၀၁)လုံးဖြင့် အမျိုးသားဝတ်စပို့ရှပ်နှင့် ဂျာကင်များကို ထုတ်လုပ်လျက်ရှိရာ တစ်လလျှင် အထည် ဒါဇင်(၄၀၀၀)ခန့် ထုတ်လုပ်နိုင်ကြောင်း သိရှိရပါသည်။ လုပ်ငန်းလုပ်ကိုင်သော နေရာမှာ လူနေရပ်ကွက်အတွင်း ဖြစ်သော်လည်း၊ ပတ်ဝန်းကျင်မှ တစ်စုံတစ်ရာ ကန့်ကွက်မှုမရှိကြောင်းကို သက်ဆိုင်ရာ ရပ်ကွက်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံထားပါသည်။ ယင်းစက်ရုံ၏ ပတ်ဝန်းကျင်တွင်လည်း အခြားစက်ရုံများ တည်ရှိကြောင်း စစ်ဆေးတွေ့ရှိရပါသည်။

(၂) **သုံးသပ်ချက်။** ရွှေရွက်လုထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ အထည်ချုပ်လုပ်ငန်းသည် လူနေရပ်ကွက်အတွင်း တည်ရှိနေသော်လည်း ယင်းစက်ရုံ၏ ပတ်ဝန်းကျင်တွင်လည်း အခြားစက်ရုံများ တည်ရှိနေခြင်း၊ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုမရှိခြင်း၊ ဘေးပတ်ဝန်းကျင်မှ ကန့်ကွက်မှု တစ်စုံတစ်ရာမရှိခြင်းတို့ကြောင့် ယင်းအထည်ချုပ်လုပ်ငန်းအား ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သုံးသပ်ရရှိပါသည်။

(စ) **Success Creater Co., Ltd**

(၁) **စစ်ဆေးတွေ့ရှိချက်။** Success Creater Co., Ltd သည် မရမ်းကုန်းမြို့နယ် ၆ ရပ်ကွက်၊ ဘုရားဖောတီလမ်း(ပေါက်စေတီကျောင်းလမ်း)၊ အမှတ်(ခ/၃၁၆/၃၁၇)ရှိ မြေနှင့် အဆောက်အအုံကို ပိုင်ရှင်ဖြစ်သူ ဦးအောင်စိန်ထံမှ ၉-၁၁-၂၀၀၁ ရက်နေ့တွင် ငှားရမ်း၍ အထည်ချုပ်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ မြေအကျယ်အဝန်းမှာ (၄၅ပေ× ၁၄၀ပေ)ခန့် ရှိပြီး၊ ယင်းမြေကွက်အတွင်းတွင် (၄၁ပေ× ၅၇ပေ)ရှိ ၁+၂ထပ်သွပ်+ပျဉ်ကာ အဆောက်အအုံ(၁)လုံး၊ (၃၄ပေ× ၁၀၆ပေ)ရှိ တစ်ထပ်အုတ်နံကပ်စက်ရုံ၊ (၃၄ပေ× ၆၈ပေ)ရှိ တစ်ထပ် သွပ်မိုးသွပ်ကာ စတိုအဆောက်အအုံ(၁)လုံးနှင့် (၃၀ပေ× ၄၂ပေ)ရှိ နှစ်ထပ်အုတ်နံကပ်လူနေအဆောက်အအုံ(၁)လုံးတို့ ရှိပါသည်။ စက်ရုံတည်နေရာပြပုံစံကို နောက်ဆက်တွဲ(စ) ဖြင့် ပူးတွဲတင်ပြထားပါသည်။ ယင်းကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာမှာ ဒေါ်ယဉ်ယဉ်ဌေးဖြစ်ပြီး၊ အလုပ်သမားဦးရေ(၂၅၀)ဦး၊ စက်အလုံးရေ(၂၂၄)လုံးဖြင့် အမျိုးသား၊ အမျိုးသမီးဝတ်ဂျာကင်များ ထုတ်လုပ်လျက်ရှိရာ တစ်လလျှင် အထည် ဒါဇင်(၄၀၀၀)ခန့် ထုတ်လုပ်နိုင်ကြောင်း သိရှိရပါသည်။ လုပ်ငန်းလုပ်ကိုင်သောနေရာမှာ လူနေရပ်ကွက်အတွင်း ဖြစ်သော်လည်း ပတ်ဝန်းကျင်မှ တစ်စုံတစ်ရာကန့်ကွက်မှုမရှိကြောင်း သက်ဆိုင်ရာရပ်ကွက်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံထားပါသည်။

(၂) **သုံးသပ်ချက်။** Success Creater Co., Ltd ၏ အထည်ချုပ်လုပ်ငန်းသည် လူနေရပ်ကွက်အတွင်း တည်ရှိသော်လည်း၊ ယခင်ကတည်းက ဆောင်ရွက်လျက်ရှိသည့် လုပ်ငန်းဖြစ်ခြင်း၊ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုမရှိခြင်း၊ ဘေးပတ်ဝန်းကျင်မှ ကန့်ကွက်မှု တစ်စုံတစ်ရာမရှိခြင်းတို့ကြောင့် ယင်းအထည်ချုပ်လုပ်ငန်းအား ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း သုံးသပ်ရရှိပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်မဟုတ်ဘဲ၊ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်လျက်ရှိသော အထက်ဖော်ပြပါ လုပ်ငန်း(၆)ခု၏ လုပ်ငန်းတည်နေရာ၊ ပတ်ဝန်းကျင်အခြေအနေ၊ ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်နှင့် သုံးသပ်ချက်များကို သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

ဦးကျော်

၉၇၃၂
၆၇

3642
6/5

အတွေ့တွေ့ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

အကြောင်းအရာ။ ။ ရွှေရွက်လှထုတ်လုပ်မှုကုမ္ပဏီလီမိတက် (လုပ်ငန်းအပေါင်း) မှ CMP စနစ်ဖြင့်နိုင်ငံတကာအဆင့်မီအဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေရွက်လှထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Shwe Ywet Hla Manufacturing Co.,Ltd. ) သည် မရမ်းကုန်းမြို့နယ်၊ မြန်မာနိုင်ငံစစ်မှုထမ်းဟောင်းအဖွဲ့ပိုင် မြေတိုင်းရပ်ကွက်အမှတ် (၁၇)၊ မြေကွက်အမှတ် (၁၂/က၂) မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၀.၆၃၂) ဧက (၂၂၅၇.၆၂ စတုရန်းမီတာ) ပေါ်ရှိအဆောက်အဦးများကို ငှါးရမ်းဆောင်ရွက်လျက်ရှိသော C M P စနစ်ဖြင့်နိုင်ငံတကာအဆင့်မီအဝတ်အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၆-၂-၂၀၀၃) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး (၁၃-၃-၂၀၀၃) နေ့တွင်ကျင်းပသောကုန်သွယ်မှုမူဝါဒကောင်စီ၏ (၉/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှသဘောတူညီချက်အရအစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၂၄-၄-၂၀၀၃) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၃/၂၀၀၃) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

အထွေထွေ အရပ်ရပ် - ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅) ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် ၁၂ တို့နှင့်အညီ ရွှေရွက်လှ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Shwe Ywet Hla Manufacturing Co., Ltd. ) သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ တွင် လက်မှတ်ရေးထိုးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၆-၅-၂၀၀၃။

ဥက္ကဋ္ဌ

6.9.02

## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ
## (မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | ရွှေရက်လှ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Shwe Yaet Hla Manufacturing Co.,Ltd)<br>(၂၃-၀-၂၀၀၀ နေ့တွင်မှတ်ပုံတင်ပြီး) |
| ၂ | လုပ်ငန်း အဆိုပြုသူအမည် | ဦး စိုး လှိုင် |
| ၃ | အဆိုပြုလုပ်ငန်း အမျိုး အစား | CMP စနစ်ဖြင့်နိုင်ငံတကာအဆင့်မီအဝတ်အထည် အမျိုး မျိုး ချုပ်လုပ်ခြင်း လုပ်ငန်း (အဟောင်း) |
| ၄ | တည်နေရာ | မြေတိုင်း ရပ်ကွက်အမှတ် (၀၇)၊ မြေကွက်အမှတ် (၁၂/က၂) မရမ်း ကုန်း မြို့နယ်၊ ရန်ကုန်တိုင်း |
| ၅ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၀.၇၅သန်း (US $ ၀.၁၂သန်းအပါအဝင်) |
| | - စက်ပစ္စည်း ကိရိယာ | ကျပ် ၀.၇၃သန်း (US $ ၀.၁၂သန်းအပါအဝင်) |
| | - ရုံး သုံး ပရိဘောဂ | ကျပ် ၁၀.၀၂သန်း |
| ၆ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | (၀.၆၃၂) ဧက (၂၂၅၇.၆၂၀ တုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | စက်မှုဇုန်ဟောင်း အဖွဲ့ပိုင်မြေ |
| | - မြေအမျိုး အစား | ၃(ခ)၊ အိမ်ယာ မြေ |
| ၇ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | ဒါဇင် |
| | - Mens Polo Shirt | ၃၅၀၀၀ |
| | - Boys Polo Shirt | ၃၅၀၀၀ |
| | - Mens Jacket | ၁၀၀၀၀ |
| | | ၈၀၀၀၀ (တစ်ဦး လျှင်တစ်နှစ်ပျမ်းမျှ (၂၂၆) ဒါဇင်နှုန်း ရှိပါသည်။) |
| ၈ | ရောင်း ချမည့်နည်း စနစ် | |
| | - CMP စနစ် (ပြည်ပ) | ၉၉% |
| | - ပြည်တွင်း ရောင်း (Reject) | ၁% |

- <u>ကတိဝန်ခံချက်များ</u> ( အောက်ပါအတိုင်း ပေးထားပါသည်။ )
  - ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာ လွှင်ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊
  - မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမည်ဖြစ်ကြောင်း၊
  - ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်မီးဘေးအန္တရာယ်များမဖြစ်ပွားစေရန်လိုအပ်သောအစီအမံများကြိုတင်ကာကွယ်မှုများပြုလုပ်ထားမည် ဖြစ်ကြောင်း၊
  - CMP လုပ်ငန်းဆောင်ရွက်မှုအတွက်ရရှိသော နိုင်ငံခြားငွေများကို M F T B နှင့် M I C B တို့ရှိကုမ္ပဏီ၏ငွေစာရင်းသို့မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း၊
  - ယင်းသို့ပေးသွင်းထားရှိသည့်နိုင်ငံခြားငွေများကိုနိုင်ငံတော်မှသတ်မှတ်ခွင့်ပြုထားသည့် ငွေလဲလှယ်ရေးဌာန( Money Changer Counter )တွင်လဲလှယ်ပြီး မိမိလုပ်ငန်းအတွက် အလုပ်သမားများ၏လုပ်အားခများအား ပေးဆောင်ရမည်ကိုသိရှိလိုက်နာမည်ဖြစ်ကြောင်း၊
- လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့သဘောထား မှတ်ချက်တောင်းခံခဲ့ရာမြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းမှဓါတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားလာပါသည်။
- ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာအဆိုပြုလု

ငန်းသည်လူနေရပ်ကွက်အတွင်းတည်ရှိနေသော်လည်း ပတ်ဝန်းကျင်တွင်အခြား စက်ရုံများတည်ရှိခြင်း၊ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုမရှိခြင်း ဘေးပတ်ဝန်းကျင်မှကန့်ကွက်မှုတစ်စုံတစ်ရာမရှိခြင်းတို့ကြောင့်လုပ်ငန်းအား ဆက်လက်ဆောင်ရွက်ခွင့်ပြုသင့်ကြောင်း ပြန်ကြားလာပါသည်။
(ပူးတွဲ)

- ယခုအဆိုပြုလုပ်ငန်းသည် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှစိစစ်ထောက်ခံတင်ပြလာသော CMP လုပ်ငန်းဟောင်းဖြစ်ပါ၍ ကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။
- ငွေကြေးဆိုင်ရာအထောက်အထားအဖြစ် ရွှေရွက်လှထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ၊ (၂၂-၁၁-၂၀၀၂) နေ့ဘဏ်လက်ကျန်မှာကျပ် (၃) သန်းရှိကြောင်းတင်ပြထားပါသည်။
- ခွင့်ပြုမိန့်ထုတ်ပေးပြီး CMP အထည်ချုပ်လုပ်ငန်းပေါင်း (၁၇၀) ခုတွင်လုပ်ငန်းဟောင်း (၁၉) ခုပါဝင်ပါသည်။ ယခုအဆိုပြုလုပ်ငန်းအပါအဝင်တင်ပြထားဆဲအထည်ချုပ်လုပ်ငန်း (၆၇) ခုရှိပါသည်။
- ပူးတွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၇ ၎င်း တို့တင်ပြသော အဆိုပြုချက်အရ ထုတ်လုပ်မှု( ပုံမှန်နှစ်)

| အထည်အမျိုး အစား | ဒါဇင် | ချုပ်ခနှုန်း (US $/ Doz) | မျှော်မှန်းသော CMP လက်ခရငွေ (US $) |
|---|---|---|---|
| - Mens Polo Shirt | ၃၅၀၀၀ | ၄.၂၀ | ၁၄၇၀၀၀ |
| - Boys Polo Shirt | ၃၅၀၀၀ | ၄.၂၀ | ၁၄၇၀၀၀ |
| - Mens Jacket | ၁၀၀၀၀ | ၁၂.၀၀ | ၁၂၀၀၀၀ |
| စုစုပေါင်း | ၈၀၀၀၀ | | ၄၁၄၀၀၀ |

(တစ်ဦး လျှင်တစ်နှစ်ပျမ်း မှ( ၂၂၉ ) ဒါဇင်နှုန်း ရှိပါသည်။ )

- အဆိုပြုလွှာပါပြည့်တွင်း အလုပ်သမား ( ၃၆၅ ) ဦး ရှိပါသည်။
- ထို့ကြောင့်အဆိုပြုလွှာပါတစ်ဦးတစ်လအတွက် မျှော်မှန်း သော

ချုပ်ခရငွေ = (US $ ၄၁၄၀၀၀ ÷ ၃၆၅ ဦး) ÷ ၁၂
= ( ၉၄.၅၂ ) ဒေါ်လာဖြစ်ပါသည်။

# SHWE YWET HLA MANUFACTURING CO., LTD.

## LIST OF MACHINERIES AND EQUIPMENTS

Exhibit No. III

| Sr No | Particulars | Unit | Qty | Unit Price In US $ | Value In US $ |
|---|---|---|---|---|---|
| 1 | Singer | Set | 23 | 720 | 16560 |
| | | Set | 27 | 480 | 12960 |
| | | Set | 50 | 294 | 14700 |
| 2 | Over Lock ၊ Inter Lock | Set | 24 | 1400 | 33600 |
| | | Set | 31 | 480 | 14880 |
| | | Set | 2 | 525 | 1050 |
| | | Set | 2 | 325 | 650 |
| | | Set | 2 | 325 | 650 |
| | | Set | 2 | 425 | 850 |
| | | Set | 10 | 295 | 2950 |
| | | Set | 2 | 325 | 650 |
| 3 | Button Hold | Set | 1 | 932 | 932 |
| | | Set | 1 | 300 | 300 |
| 4 | Cutting Machine | Set | 2 | 480 | 960 |
| 5 | Iron | Set | 10 | 140 | 1400 |
| 6 | Generator | Set | 1 | 9200 | 9200 |
| 7 | Boiler | Set | 1 | 10000 | 10000 |
| | **Total** | | **191** | | **122292** |

မှတ်ချက် ။ ။ (၁) ဖော်ပြပါ စက်ပစ္စည်းများ၏ ဈေးနှုန်းများမှာ လျော်ကန်သင့်မြတ်ပါသည်။

(၂) Exchange Rate 1 US $ = Kyats 6.00.

(၃) ဖော်ပြပါစက်ပစ္စည်းများကိုမလေးရှားနိုင်ငံရှိ (Bandartex Sendirian Berhad) ကုမ္ပဏီမှ ဝယ်ယူခြင်း ဖြစ်ပါသည်။

ဦးစိုးလှိုင်
(အုပ်ချုပ်မှုဒါရိုက်တာ)
**SHWE YWET HLA MANUFACTURING CO., LTD.**

## SHWE YWET HLA MANUFACTURING CO., LTD.
### ထုတ်လုပ်မည့် အဝတ်အထည် တစ်ထည်ချင်း၏ အဓိက လိုအပ်ချက်စံနှုန်း

| Sr. No. | Particulars | Fabric Yards | Button PCS | Zip PCS | Label (Main/Size/Care) PCS | SP Thread Lbs |
|---|---|---|---|---|---|---|
| 1. | Mens Polo Shirt | 2 | 6 | - | 3 | 0.035 |
| 2. | Boys Polo Shirt | 2 | 6 | - | 3 | 0.035 |
| 3. | Men's Jacket | 3 | 8 | 1 | 3 | 0.045 |

**SHWE YWET HLA MANUFACTURING CO., LTD.**

**List of Raw Materials Requirement On C.M.P Basic**

Exhibit No. IV

| Sr. No. | Particulars | A/U | Year-1 | Year-2 | Year-3 | Year-4 | Year 5-10 |
|---|---|---|---|---|---|---|---|
| 1. | QUANTITY | | | | | | |
| 1. | Various Fabric | Yds - 000 | 1920 | 1920 | 1920 | 1920 | 1920 |
| 2. | Main Label | Pcs - 000 | 960 | 960 | 960 | 960 | 960 |
| 3. | Size Label | Pcs - 000 | 960 | 960 | 960 | 960 | 960 |
| 4. | Care Label | Pcs - 000 | 960 | 960 | 960 | 960 | 960 |
| 5. | Polyester Button | Doz - 000 | 500 | 500 | 500 | 500 | 500 |
| 6. | SP Thread | Lbs - 000 | 34.8 | 34.8 | 34.8 | 34.8 | 34.8 |
| 7. | Zipper | Pcs - 000 | 120 | 120 | 120 | 120 | 120 |
| 8. | Tissue Paper | Pcs - 000 | 822 | 822 | 822 | 822 | 822 |
| 9. | Paper Card | Pcs - 000 | 822 | 822 | 822 | 822 | 822 |
| 10. | Hanger | Pcs - 000 | 822 | 822 | 822 | 822 | 822 |
| 11. | 3" Tag Pin | Doz - 000 | 761 | 761 | 761 | 761 | 761 |
| 12. | Stopper | Pcs - 000 | 80 | 80 | 80 | 80 | 80 |
| 13. | Inter Lining | Yds - 000 | 110 | 110 | 110 | 110 | 110 |
| 14. | Elastic | Yds - 000 | 475 | 475 | 475 | 475 | 475 |
| 15. | Cello Tape | Yds - 000 | 175 | 175 | 175 | 175 | 175 |
| 16. | Opp Tape | Yds - 000 | 420 | 420 | 420 | 420 | 420 |
| 17. | Maker Paper | Pcs - 000 | 700 | 700 | 700 | 700 | 700 |
| 18. | Sticker | Doz - 000 | 100 | 100 | 100 | 100 | 100 |
| 19. | Piping | Yds - 000 | 465 | 465 | 465 | 465 | 465 |
| 20. | Plastic Clip | Pcs - 000 | 650 | 650 | 650 | 650 | 650 |

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေး အတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရလုပ်ငန်း မှပြည်ပသို့တင်ပို့ရောင်းချခြင်း မှနိုင်ငံခြား ငွေဖြင့်ရရှိသည့်အမြတ် ငွေအပေါ် (၅၀%)ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည် ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက်ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက်ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစား ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ (ဂ) အရကုန်ထုတ်လုပ်မှုကောင့်ပြည့်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်း အကောင်အထည်ဖော်မှုအရ လျှောက်ထား လာသည့်အခါ စဉ်းစား ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရသွင်းကုန်အစားထိုး လုပ်ငန်း အဖြစ် အကျိုး အမြတ်နည်းသည့်လုပ်ငန်း အပေါ်သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်း ခံခြင်း ကိုအကျိုး ဝင်ခြင်း မရှိဟု သုံးသပ်ရပါသည်။
- ဥပဒေပုဒ်မ ၁၃ (စ) အရလုပ်ငန်း မှရရှိမည့်အမြတ် ငွေကိုတစ်နှစ် အတွင်း ပြန်လည်ရင်း နှီး မြှုပ်နှံပါကထိုအမြတ် ငွေအပေါ် ဝင်ငွေခွန် ကင်း လွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကိုအမှန်တကယ်ပြန်လည် ရင်း နှီးမြှုပ်နှံမှုပြုသည့်အခါလျှောက်ထား လာပါက ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဆ) အရလုပ်ငန်း သုံး မည့်ပစ္စည်း များအပေါ် တန်ဖိုး လျော့ငွေကိုသတ်မှတ်သည့်နှုန်း အတိုင်း နှစ်ကိုပိုနှင့်မူလ တန်ဖိုး ပြည့်မီသည်အထိအမြတ် ငွေမှ နုတ်ပယ်ခွင့်နှင့်ပတ်သက်၍လျှောက် ထား လာသည့်အခါကော်မရှင်မှသတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့် ပါသည်။



* ငွေး * ၃-၆-၂၀၀၂။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီး မြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်း သည့်လုပ်ငန်း သုံးပစ္စည်း များ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များ ကင်း လွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်သည့်ပစ္စည်း များ ပြည်ပသို့ တင်ပို့ ရောင်း ချမှုအပေါ် ကုန်သွယ်လုပ်ငန်း ခွန်ကင်း လွတ်ခွင့် နှင့်စပ်လျဉ်း၍ C M P စနစ်ဖြင့်ထုတ်လုပ်သည့်ပစ္စည်း များအား ပြည်ပသို့တင်ပို့ ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်း ခွန်ကင်း လွတ်ခွင့်ပြုသင့်ပါသည်။



* ကျော်

| | | | |
|---|---|---|---|
| ၉ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | CMP ချုပ်ခနှုန်း (US$/Doz) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) |
| | - Mens Polo Shirt | ၄.၂ | ၁၂၄၀၀ |
| | - Boys Polo Shirt | ၄.၂ | ၁၂၄၀၀ |
| | - Mens Jacket | ၁၂.၀ | ၂၀၄၀၀ |
| ၁၀ | ဝင်ငွေ (ပုံမှန်နှစ်) | | |
| | - ကျပ်ငွေဖြင့် | ကျပ် ၁၀.၇၂သန်း | |
| | - နိုင်ငံခြားငွေဖြင့် | US $ ၀.၄၁သန်း | |
| | အသား တင်အမြတ် (ပုံမှန်နှစ်) | | |
| | - ကျပ်ငွေဖြင့် | ကျပ် ၀.၀၂သန်း | |
| | - နိုင်ငံခြားငွေဖြင့် | US $ ၀.၂၉သန်း | |
| ၁၂ | အရင်းကျေကာလ | (၃) နှစ်နှင့် (၈) လ | |
| ၁၃ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | (၂၅.၉၆) ရာခိုင်နှုန်း | |
| ၁၄ | နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် | ကျပ် ၀.၀၁သန်း | |
| | | US $ ၀.၀၅သန်း | |
| | - ကုန်သွယ်လုပ်ငန်းခွန် (ပြည်တွင်းရောင်းရငွေအပေါ် ၁၀%) | ကျပ် ၁.၀၇သန်း | |
| ၁၅ | ဝန်ထမ်းအင်အား (ပြည်တွင်း) | (၃၆၅) ဦး | |
| ၁၆ | အခြား | - ဂုက်ပစ္စည်းများကိုပြည်ပမှဝယ်ယူအသုံးပြုထားကြောင်းတင်ပြထားပါသည်။<br>- ဂုက်ပစ္စည်း ဂရင်း ကုန်ကြမ်း ဂရင်းနှင့် ထုတ်လုပ်မှုဂျုံနှုန်းများကိုပူးတွဲတင်ပြထားပါသည်။ | |

လျှို့ဝှက်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၃၇၂၈၉၀။

၃၃၇၆(က)(၃)

စာအမှတ်၊ ၇က - ၁ / မ - သဘောထား /၂၀၀၂ (

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်

သို့/ -

ဗိုလ်ချုပ်တင်ထွတ်

ဝန်ကြီး

လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ <u>သဘောထား မှတ်ချက်တောင်းခံခြင်း</u> ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ တိုင်းရင်းသားပိုင်မြန်မာကုမ္ပဏီများသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် အဆိုပြုလွှာများကို ၎င်းကော်မရှင်သို့ တင်ပြလျှောက်ထားလာပါသည်။ ယင်းလုပ်ငန်းဟောင်းများမှာ ကော်မရှင်ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

၂။ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၏ (၄-၆-၂၀၀၂) ရက်စွဲဖြင့် ထုတ်ပြန်သည့် ပို့ကုန်သွင်းကုန်နှင့် ပတ်သက်သည့် သတင်းလွှာ (၈/၂၀၀၂) အရ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက် မရပါက (၁-၁၂-၂၀၀၂) နေ့မှစပြီး ကုန်ကြမ်းတင်သွင်းခွင့် လိုင်စင်များ ရပ်ဆိုင်းမည်ဖြစ်ပြီး၊ ကော်မရှင်မှလည်း ယခုတောင်းခံထားသည့် သဘောထားနှင့်အတူ အထက်အဖွဲ့အစည်း အဆင့်ဆင့်သို့ ဆက်လက်တင်ပြရန်နှင့် သတ်မှတ်ရက်မတိုင်မီ ကော်မရှင်ခွင့်ပြုချက်ရရှိရေး ဆောင်ရွက်ရန် အချိန်ကန့်သတ်ချက်ရှိနေပါသည်။

၃။ (၁၀-၁၀-၂၀၀၂) နေ့တွင်ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၃၈/၂၀၀၂) အစည်းအဝေး လမ်းညွှန်ချက်အရ ယင်းအဆိုပြုချက်ပါ စက်ရုံအလုပ်ရုံအတွက် လျှပ်စစ်ဓါတ်အား လိုအပ်ချက်ကိုသက်ဆိုင်ရာ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်တောင်းခံရန် လို

၂/ -

အပ်ပါသဖြင့် ကော်မရှင်သို့တင်ပြလာသည့်လုပ်ငန်း အဆိုပြုချက် (ဂ) ခုအပေါ်လျှပ် စစ်စွမ်းအား ဝန်ကြီး ဌာန၏သဘောထား မှတ်ချက်အား ပြန်ကြား ပေးပါရန် အဆိုပြုလုပ်ငန်း များ နှင့်စပ်လျဉ်း သည့်အချက်အလက်များ အား ပူး တွဲ ပေးပို့လျှက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

(ဦး ဃောင်း)

ဥက္ကဋ္ဌ

မိတ္တူ-

(၁) ဦး ဆောင်ညွှန်ကြား ရေး မှူး
မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း ။

(၂) ရုံး လက်ခံ။

(၃) မျှောစာတွဲ။

* အေး *

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၃၇၂၈၉၀။

စာအမှတ်၊ ရက-၁/CMP/၂၀၀၂(၃၂၆၁ )
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်။

အကြောင်းအရာ။ ။ **<u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။</u>**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏
(၁) ၁၁-၁၀-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ရက-၁/CMP/၂၀၀၂(၂၉၀၃-င)။
(၂) ၁၄-၁၀-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ရက-၁/CMP/၂၀၀၂(၃၀၁၇-ဃ)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ (၁-၁၁-၂၀၀၂) နေ့တွင်ကျင်းပသောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၆/၂၀၀၂) အစည်းအဝေးတွင်တင်ပြဆွေးနွေးခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှလုပ်ငန်းများ အချိန်မီဆောင်ရွက်နိုင်ရေးအတွက်ဝိုင်းဝန်းပံ့ပိုးပေးကြပါရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားပိုင် CMP အထည်ချုပ်လုပ်ငန်း (အဟောင်း) (၉) ခုနှင့်စပ်လျဉ်း၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီသို့ရည်ညွှန်းချက်ပါစာများဖြင့်သဘောထားမှတ်ချက်တောင်းခံထားပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါလုပ်ငန်းအဆိုပြုချက်များအား အချိန်မီတင်ပြနိုင်ရေးအတွက် ဆောင်ရွက်ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။ (သဘောထားတောင်းခံထားသည့်ကုမ္ပဏီ (လုပ်ငန်းအဟောင်း) အမည်များအား ပူးတွဲပေးပို့ပါသည်။)

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီးလင်းသော်၊ အထူးအရာရှိ)

<u>ဥက္ကဋ္ဌ</u>
<u>နိုင်ငံခြားဆက်ဆံရေးနှင့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းကော်မတီ</u>
<u>ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ။</u>

ပူး တွဲ

၁။ ဗစ်တာအင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် - ကော်မရှင်တင်ပြရန်

၂။ စပ်ဆက်(စ်) ခရီရေတာ ကုမ္ပဏီ လီမိတက် - ကော်မရှင်တင်ပြရန်

၃။ ဟန်ရှင်း မန်း နျူဖက်ချာရင်း ကုမ္ပဏီလီမိတက် - ။

၄။ ဝင်း တား စတား အင်တာပရိုက်(စ်) - ။

၅။ ကံလိုက်မင်နုယူဖက်ချာ ရင်း ကုမ္ပဏီလီမိတက် - ။

၆။ ရွှေရွက်လှထုတ်လုပ်မှုကုမ္ပဏီလီမိတက် - ။

(အမှတ် ၁ မှ ၆ အထိ) ၁၁-၁၀-၈ ရက်စွဲပါပူး စာများ

၇။ Linn Htet Industry Co., Lt. - ။

၈။ Kittenish Knitting Co.Ltd. - ။

၉။ Linn Htet Hotel & Trading Int'l Ltd. - ။

(အမှတ် ၇ မှ ၉ အထိ) ၁၄-၁၀- ရက်စွဲပါပူး စာများ

16.1.03

မြို့နယ်စစ်မှုထမ်းဟောင်းအဖွဲ့
မရမ်းကုန်းမြို့နယ်
စာအမှတ်၊ ၃ / စီးမှူး / ဆထက
ရက်စွဲ၊ ၂၀၀၂ ခုနှစ် ဒီဇင်ဘာလ ( ၆ ) ရက်



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
ရန်ကုန်မြို့

အကြောင်းအရာ။ မြေပိုင်ဆိုင်မှုကိစ္စ တင်ပြခြင်း

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မရမ်းကုန်းမြို့နယ် (၃) ရပ်ကွက် လှနေရပ်ကွက်အမှတ်၊ သဗိုင်း၊ မြေကွက်အမှတ်၊ ၁၂/က (၁) မြေတိုင်းရပ်ကွက်အမှတ် (၁၇) ဧရိယာ ၀.၆၃၂ ဧကအား ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြေတိုင်းဌာနတို့တွင် မရမ်းကုန်းစစ်မှုထမ်းဟောင်းအဖွဲ့အမည်ဖြင့် မှတ်ပုံတင်ထားရှိပြီးဖြစ်၍ ပိုင်ရှင်အမည်ပေါက်လျက်ရှိပါသည်။

ထိုသို့အမည်ပေါက်ပိုင်ဆိုင်သော်လည်း ယနေ့ထိ မြေဂရန်ထုတ်ယူမှုမရှိသေးပါသဖြင့် ဂရန်အနေဖြင့်ထိုးသန့်မတင်ပြနိုင်ကြောင်း ဗိုလ်မြို့နယ်စစ်မှုထမ်းဟောင်းအဖွဲ့ အဆောက်အဦးများ ဦးရင်းထားသော ရှေ့ဆောင်မှုအားလည်း ချုပ်ကိုင်ထိန်းသိမ်းသည့်ကြောင်း ကြားပြီးဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ပိုင်ဆိုင်မှုနှင့်ပတ်သက်၍ ပေးပို့ထားသော မြေကွက်ပုံစံမိတ္တူကို မြို့နယ်စစ်မှုထမ်းဟောင်းအဖွဲ့မှ ပိုင်ဆိုင်ကြောင်း ထပ်မံတင်ပြအစီရင်ခံအပ်ပါသည်။

ဥက္ကဋ္ဌ
အတွင်းရေးမှူး
မရမ်းကုန်းမြို့နယ်စစ်မှုထမ်းဟောင်းအဖွဲ့

R.၀၇၃
၃၀/၉

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
CMP လက်ခစားလုပ်ငန်းများစိစစ်ရေးကော်မတီ
အမှတ် ၁၉၂၊ ကမ္ဘာအေးဘုရားလမ်း၊ ရန်ကုန်မြို့

စာအမှတ်၊ ၁၅၁၅ (၅) CMP/၂၀၀၂(၁၁၇၃)
ရက်စွဲ ၊ ၂၀၀၂ ခုနှစ် စက်တင်ဘာလ ၂၉ ရက်

အကြောင်းအရာ။ CMP လက်ခစားစနစ်ဖြင့်ဆောင်ရွက်ရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိရေးလျှောက်ထားခြင်းကိစ္စ

ရည်ညွှန်းချက်။ (၁) CMP လက်ခစားလုပ်ငန်းများစိစစ်ရေးကော်မတီ၏ ၈-၈-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ၁၅၁၅(၅) CMP /၂၀၀၂(၉၂၂)
(၂) CMP လက်ခစားလုပ်ငန်းများစိစစ်ရေးကော်မတီ ၁၄-၈-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ၁၅၁၅(၅) CMP /၂၀၀၂(၉၄၈)
(၃) CMP လက်ခစားလုပ်ငန်းများစိစစ်ရေးကော်မတီ ၁၇-၈-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ၁၅၁၅(၅) CMP /၂၀၀၂(၉၆၇)

၁။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ ၂၀၀၂ ခုနှစ် ဇွန်လ ၄ ရက် နေ့စွဲဖြင့် " ပို့ကုန်သွင်းကုန်နှင့်ပတ်သက်သောသတင်းလွှာ ၈/၂၀၀၂ " ကို ထုတ်ပြန်ကြေညာချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်မရှိဘဲ CMP စနစ်ဖြင့်ဆောင်ရွက်နေသောလုပ်ငန်းများမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိရေးအတွက် ဤကော်မတီသို့လာရောက်စာတမ်းအသေးစိတ်အထားများဖြင့်ပူးတွဲတင်ပြလျှောက်ထားလာပါသည်။

၂။ ထိုသို့လျှောက်ထားလာသောလုပ်ငန်းများမှ လုပ်ငန်း (၁၆) ခုကို အထက်ရည်ညွှန်းပါစာများဖြင့် CMP စနစ်ဖြင့်ဆောင်ရွက်ခွင့်ပြုသင့်သော လုပ်ငန်းများဖြစ်ကြောင်း ထောက်ခံလျက်ပေးပို့တင်ပြခဲ့ပြီးဖြစ်ပါသည်။

၃။ ဆက်လက်၍ လျှောက်ထားလာသောလုပ်ငန်းများကို စိစစ်ခဲ့ရာ အောက်ပါလုပ်ငန်း (၁၁) ခုတို့မှ တင်ပြသော အချက်အလက်များနှင့် စိစစ်တွေ့ရှိချက်များကို ပူးတွဲပေးပို့လျက် CMP စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုသင့်သော လုပ်ငန်းများဖြစ်ကြောင်း ထောက်ခံတင်ပြအပ်ပါသည်-

(က) NEW DESIGN MANUFACTURING LTD.
အထည်ချုပ်လုပ်ငန်း
၇က/ကြီး/၉၀၇၊ ရက်စွဲ ၂၉-၁၁-၂၀၀၀
၅၂၊ သမကျောင်းလမ်း၊ အမှုထမ်း ရပ်ကွက်
သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်း

(ခ) HANJEN MANUFACTURING CO.,LTD.
အထည်ချုပ်လုပ်ငန်း
၇က/ကြီး/၉၇၆၊ ရက်စွဲ ၂-၁၁-၂၀၀၀
အမှတ် ၁၀၃၊ ခမ္မာသုခ ကျောင်းလမ်း၊ ၁၃ ရပ်ကွက်
လှိုင်မြို့နယ်၊ ရန်ကုန်တိုင်း။

(ဂ) WINTER STAR ENTERPRISE
အထည်ချုပ်လုပ်ငန်း
၇က/ကြီး/၄၃၁၊ ရက်စွဲ ၁-၃-၁၉၉၅
တပ်မတော်အထည်ချုပ်စက်ရုံ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း

(ဃ) KAN LIGHT MANUFACTURING CO.,LTD.
အထည်ချုပ်လုပ်ငန်း
၇က/ကြီး/၆၃၂၊ ရက်စွဲ ၆-၂-၁၉၉၀
သုနန္ဒာလမ်း နှင့် ရွှေပေါက်ကံလမ်း ထောင့်
ဘူမိဗေဒနှင့် ဓါတ်သတ္တုဝင်း၊ မြောက်ဥက္ကလာပမြို့နယ်
ရန်ကုန်တိုင်း

(င) VICTOR INTERNATIONAL CO.,LTD.
အထည်ချုပ်လုပ်ငန်း
၇က/ကြီး/၆၉၀၊ ရက်စွဲ ၂-၁၀-၁၉၉၀
အမှတ် ၂၁၉/အေ၊ မင်္ဂလာလမ်း၊ ကျောက်ရေတွင်းရပ်ကွက်
မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း

(စ) SHWE YWET HLA MANUFACTURING CO.,LTD.
အထည်ချုပ်လုပ်ငန်း
၇က/ကြီး/၅၇၇၊ ရက်စွဲ ၂၄-၆-၁၉၉၇
၁၂/က-က၊ ရန်ကုန်အင်းစိန်လမ်း၊ စစ်မှုထမ်းဟောင်း
သမိုင်း (၃) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း

၃။ ဆက်လက်၍ လျှောက်ထားလာသောလုပ်ငန်းများကို စိစစ်ခဲ့ရာ အောက်ပါလုပ်ငန်း (၁၁) ခုတို့မှ တင်ပြသောအချက်အလက်များနှင့် စိစစ်တွေ့ရှိချက်များကို ပူးတွဲပေးပို့လျက် CMP စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုသင့်သော လုပ်ငန်းများဖြစ်ကြောင်း ထောက်ခံတင်ပြအပ်ပါသည် -

(က) NEW DESIGN MANUFACTURING LTD.
အထည်ချုပ်လုပ်ငန်း
ရက/ကြီး/၉၀၇၊ ရက်စွဲ ၂၉-၁၁-၂၀၀၀
၅၂၊ သမကျောင်းလမ်း၊ အမှတ်(၂)ထမ်း ရပ်ကွက်
သန်လျင်မြို့နယ်၊ ရန်ကုန်တိုင်း

(ခ) HANJEN MANUFACTURING CO.,LTD.
အထည်ချုပ်လုပ်ငန်း
ရက/ကြီး/၉၇၆၊ ရက်စွဲ ၂-၁၁-၂၀၀၀
အမှတ် ၁၀၃၊ ခမ္မသုခကျောင်းလမ်း၊ ၁၃ ရပ်ကွက်
လှိုင်မြို့နယ်၊ ရန်ကုန်တိုင်း

(ဂ) WINTER STAR ENTERPRISE
အထည်ချုပ်လုပ်ငန်း
ရက/ကြီး/၄၃၁၊ ရက်စွဲ ၁-၃-၁၉၉၅
တပ်မတော်အထည်ချုပ်စက်ရုံ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း

(ဃ) KAN LIGHT MANUFACTURING CO.,LTD.
အထည်ချုပ်လုပ်ငန်း
ရက/ကြီး/၆၃၂၊ ရက်စွဲ ၆-၂-၁၉၉၀
သုနန္ဒာလမ်း နှင့် ရွှေပေါက်ကံလမ်း ထောင့်
ဘူမိဗေဒနှင့်ဓါတ်သတ္တုဝင်း၊ မြောက်ဥက္ကလာပမြို့နယ်
ရန်ကုန်တိုင်း

(င) VICTOR INTERNATIONAL CO.,LTD.
အထည်ချုပ်လုပ်ငန်း
ရက/ကြီး/၆၉၀၊ ရက်စွဲ ၂-၁၀-၁၉၉၀
အမှတ် ၂၁၉/အေ၊ မင်္ဂလာလမ်း၊ ကျောက်ရေတွင်းရပ်ကွက်
မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း

(စ) SHWE YWET HLA MANUFACTURING CO.,LTD.
အထည်ချုပ်လုပ်ငန်း
ရက/ကြီး/၅၇၇၊ ရက်စွဲ ၂၄-၆-၁၉၉၇
၁၂/က-က၊ ရန်ကုန်အင်းစိန်လမ်း၊ စက်မှုဇုန်ဝေါင်း
သမိုင်း (၃) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း

(ဆ) SUCCESS CREATER CO.,LTD.

အထည်ချုပ်လုပ်ငန်း

ရက/လတ်/၁၃၁၆၊ ရက်စွဲ ၂၀-၇-၁၉၉၀

ခ/၃၁၆/၃၁၇၊ ဘုရား ဇောတိလမ်း

မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) WINTER STAR ENTERPRISES

အထည်ချုပ်လုပ်ငန်း

ရက/ကြီး/၉၆၂၊ ရက်စွဲ ၃၀-၁၀-၂၀၀၀

အောင်ဆန်း ပုံနှိပ်ရေး နှင့်စာအုပ်ထုတ်ဝေရေး ဝင်း၊

အောင်ဆန်း ရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း

(ဈ) MYANMAR APPAREL CO.,LTD.

သိုးမွေး ဆွယ်တာ ချုပ်လုပ်ငန်း

ရက/ကြီး/၁၀၀၉၊ ရက်စွဲ ၂၇-၁၂-၂၀၀၀

အမှတ် ၁၅၆၊ ကျန်စစ်သား လမ်း၊ စက်မှုဇုန်(၄)

လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း

(ည) MYANMAR APPAREL CO.,LTD.

အထည်ချုပ်လုပ်ငန်း

ရက/ကြီး/၇၀၅၊ ရက်စွဲ ၂၂-၁၀-၉၀

အမှတ် ၃၅/၃၆၊ စက်မှုဇုန်(၃)

လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း

(ဋ) UNIQUE INTERNATIONAL INDUSTRY CO.,LTD.

အထည်ချုပ်လုပ်ငန်း

ရက/ကြီး/၉၂၅၊ ရက်စွဲ ၁၄-၈-၂၀၀၀

အမှတ် ၆၈၊ ဒိဗ္ဗယင်း ဝန်ထောက်ဦးမြလမ်း

စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း

၄။ ဖော်ပြပါလုပ်ငန်း (၁၁) ခုအနက် Hanjen Manufacturing Co.,Ltd. မှအပ ကျန်လုပ်ငန်း (၁၀) ခုတွင် တပ်ဆင်အသုံး ပြုသောစက်ပစ္စည်း ကိရိယာများ သည် မူလစက်မှုမှတ်ပုံတင် လျှောက်ထား စဉ်ကစာရင်း နှင့်ကွာခြား မှုရှိနေ၍တိုး ချဲ့ပြောင်း လဲတပ်ဆင်အသုံး ပြုသောစက်ပစ္စည်း ကိရိယာများ အတွက်ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေ၊ ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်း များ ၊ ညွှန်ကြား ချက်များ နှင့်အညီဆက်လက် ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ Success Creater Co.,Ltd. သည်အောက် ဖော်ပြပါစက်ပစ္စည်း များ ကို Draw Backစနစ်ဖြင့်တင်သွင်း ခဲ့ကြောင်း တွေ့ရှိရပါသည်-

| | | |
|---|---|---|
| (က) | Single Needle M/C | 40 Sets |
| (ခ) | Single Needle M/C | 31 Sets |
| (ဂ) | Double Needle M/C | 7 Sets |
| (ဃ) | Overlock M/C | 12 Sets |
| (င) | Button M/C | 2 Sets |
| (စ) | Snap M/C | 5 Sets |
| (ဆ) | Boiler | 1 Pcs |

၆။ အထက်ဖော်ပြပါစက်ပစ္စည်း များ အတွက်ပြန်လည်တင်ပို့သည့်အထောက် အထား မတွေ့ရှိရပါ။ သို့သော်ယင်း စက်ပစ္စည်း များ အား M.G.M Garment မှဝယ်ယူသည့်အထောက်အထား တင်ပြထား ပါသည်။

၇။ ဤကော်မတီတွင်စိစစ်ဆဲ လျှောက်လွှာ(၁၆) စောင်ကျန်ရှိပါသည် ။ စိစစ်ပြီး ပါကဆက်လက် ပေး ပို့တင်ပြမည်ဖြစ် ကြောင်း ဖော်ပြအပ်ပါသည်။

ဥက္ကဋ္ဌ ( )

( စံကြည်၊ အတွင်းရေး မှူး )

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်

မိတ္တူကို

အမှတ် (၁) စက်မှုဝန်ကြီး ဌာန

ရုံး လက်ခံ

နှင်း * .

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၃၇၂၈၉၀။

စာအမှတ်၊ ၇က - ၁ /CMP /၂၀၀၂(၂၉၈၄ (င)

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ အောက်တိုဘာလ ၂၁ ရက်

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။</u>

ရည်ညွှန်းချက်။ ။ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ၏ (၂၉-၉-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၁၅၁၅(၅)/ CMP /၂၀၀၂(၁၁၅၃)။

၁။ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ အောက်ဖော်ပြပါကုမ္ပဏီများနှင့်စပ်လျဉ်း၍ အထက်အဖွဲ့အစည်းမှ လမ်းညွှန်ချက်နှင့်အညီ ခွင့်ပြုမိန့်ရရှိရေးအတွက် ရည်ညွှန်းချက်ပါစာဖြင့် ကော်မရှင်သို့ တင်ပြလာပါသည်။ ယင်းလုပ်ငန်းများမှာ ကော်မရှင်ခွင့်ပြုမိန့်ဖြင့် မဟုတ်ဘဲ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။

| ကုမ္ပဏီအမည် | | တည်နေရာ |
|---|---|---|
| (၁) ဟန်ဂျင်းမန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက် | - | အမှတ်(၁၈၃) ဓမ္မသုခကျောင်းလမ်း၊ (၁၃) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်း ။ |
| (၂) ဝင်းတားစတားအင်တာပရိုက်(စ်) | - | အောင်ဆန်းပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးဝင်း၊ အောင်ဆန်းရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း ။ |
| (၃) ကံလိုက်မင်နယူဖက်ချားရင်း ကုမ္ပဏီလီမိတက် | - | ဘူမိဗေဒနှင့်ဓါတ်သတ္တုဝင်း၊ သုနန္ဒာလမ်းနှင့် ရွှေပေါက်ကံလမ်းထောင့်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း ။ |
| (၄) ဇစ်ဟာအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် | - | အမှတ်၂၁၉/အေ၊ မင်္ဂလာလမ်း၊ ကျောက်ရေတွင်းရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ် ရန်ကုန်တိုင်း ။ |
| (၅) ရွှေရွက်လှထုတ်လုပ်မှုကုမ္ပဏီ လီမိတက် | - | ၁၂/က-က၊ ရန်ကုန်-အင်းစိန်လမ်း(၃) ရပ်ကွက်၊ သမိုင်း၊ စစ်မှုထမ်းဟောင်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း ။ |

<u>ကုမ္ပဏီအမည်</u> <u>တည်နေရာ</u>

(၆) Success Creater Co.,Ltd - အမှတ်၊ ခ/၃၁၆/၃၁၇၊ ဘုရားဇောတိ
လမ်း၊ မရမ်းကုန်း မြို့နယ်၊ ရန်ကုန်တိုင်း ။

၂။ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီး စီး ၅၁၃၉ (၄-၆-၂၀၀၂) ရက်စွဲဖြင့်ထုတ်ပြန်သည့်ပို့ကုန်သွင်းကုန်နှင့်ပတ်သက်သောသတင်းလွှာ (၈/၂၀၀၂) အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုချက်မရပါက (၁-၁၂-၂၀၀၂) နေ့မှစပြီး ကုန်ကြမ်းတင်သွင်းခွင့်လိုင်စင်များ ရပ်ဆိုင်းမည်ဖြစ်၍ စက်ရုံရပ်သွားရခြင်း၊ အလုပ်သမားလျှော့ချရခြင်း စသည့်ကိစ္စများ ဖြစ်လာနိုင်ပါသည်။ ကော်မရှင်မှလည်း ယခုတောင်းခံသည့်သဘောထားနှင့်အတူအထက်အဖွဲ့အစည်းအဆင့်ဆင့်သို့ဆက်လက်တင်ပြရန်နှင့်သတ်မှတ်ရက်မတိုင်မီ ကော်မရှင်ခွင့်ပြုချက်ရရှိရေးဆောင်ရွက်နိုင်ရန်အချိန်ကန့်သတ်ချက်ရှိနေပါသည်။

၃။ သို့ပါ၍အဆိုပါလုပ်ငန်းများ ဆောင်ရွက်လျက်ရှိသောတည်နေရာများနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်လူနေအိမ်များ မှကန့်ကွက်ထားမှုရှိ-မရှိနှင့်ပတ်ဝန်းကျင်အခြေအနေအား ကော်မရှင်အစည်းအဝေးသို့တင်ပြနိုင်ရေးအတွက်စက်ရုံတည်နေရာပြပုံစံနှင့်အတူသဘောထားမှတ်ချက်ကိုဆောလျင်စွာပြန်ကြားပေးပါရန်ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး လင်းဆော်၊ အထူးအရာရှိ)

<u>ဥက္ကဋ္ဌ</u>
<u>နိုင်ငံခြားဆက်ဆံရေးနှင့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းကော်မတီ</u>
<u>ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ။</u>

ဝင်း / *

